# اليَقَظَة
# فى
# علم أصول الحديث

သာသနာ့ပညာဆည်းပူးနေသော ကျောင်းသား၊ ကျောင်းသူများအတွက်
حديث ပညာရပ်ဆိုင်ရာ အခြေခံသိမှတ်ဖွယ်ရာများ၊ ဝေါဟာရများနှင့်ဥပဒေသများအား
နားလည်သဘောပေါက်ပြီး အလွယ်တကူအလွတ်ကျက်မှတ်နိုင်ရန်
လိုရင်းတိုရှင်းပုံစံဖြင့် ရေးသားတင်ပြထားပါသည်။




بقلم
محمد فرحان
خرّيج جامعة دار العلوم كراتشى
مدرس جامعة فرقانية دار العلوم تنكنجون، باكيا كارڈن، ينگون، ميانمار

| | | |
|---|---|---|
| စာအုပ်အမည် | - | اليَقَظَة فى علم أصول الحديث |
| ပြုစုရေးသားသူ | - | محمّد فرحان<br>(خرّيج جامعة دار العلوم كراتشى)<br>Muhammad Farhan<br>*Jamia Darul Uloom Karachi* |
| အဖုံးဒီဇိုင်းနှင့်စာအုပ်ချုပ် | - | Ibrahim Gammun<br>FOREVER *Computer DTP & Binding*<br>No.(10), Pyidaungsu St, Thingyangun Tsp. |
| စာမျက်နှာ | - | ၁၇ |
| ထုတ်ဝေသည့်အကြိမ် | - | ပထမအကြိမ် |
| ထုတ်ဝေသည့်ခုနှစ် | - | ربيع الأول، ١٤٤٢ھ<br>အောက်တိုဘာ ၂၀၂၀ |
| အုပ်ရေ | - | ၃၀၀ |

# နိဒါန်း

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

الحمد لله والصلوة والسلام على رسوله المصطفى، أما بعد:

حديث ပညာရပ်ကို စတင်လေ့လာမဲ့ ကျောင်းသားကျောင်းသူတွေအတွက် ဒီစာအုပ်ကို ပြုစုလိုက်တာပါ။ ဆရာတစ်ပါးပါး ရဲ့ အကူအညီနဲ့ ဒီစာအုပ်ကို နားလည်ပြီး အလွတ် ကျက်မှတ်လိုက်မယ်ဆိုရင် ဒီဘာသာရပ်နဲ့ ပတ်သက်တဲ့ အရဗီစာအုပ်စာပေတွေကို ရှေ့ဆက်ပြီး လေ့လာနိုင်တဲ့ အရည်အချင်း إن شاء الله تعالى ရရှိသွားမှာပါ။ ဒီစာအုပ်လေး ဖြစ်မြောက်ဖို့အတွက် အဓိက မှီငြမ်းထားတဲ့ ကျမ်းတွေကတော့ -

1. خير الأصول فى حديث الرسول (معرّب) بتعليق الشيخ نور البشر
2. مقدمة المشكوة مع حواشى السعدى وتعليق الشيخ نور البشر
3. تيسير مصطلح الحديث للدكتور محمود الطحان
4. الميسر فى علم مصطلح الحديث للشيخ عبد الماجد الغَورى
5. الميسر فى علم الجرح والتعديل للشيخ عبد الماجد الغورى
6. موسوعة علوم الحديث وفنونه للشيخ عبد الماجد الغورى
7. قواعد فى علوم الحديث للشيخ ظفر أحمد العثمانى بتحقيق الشيخ عبد الفتاح أبى غدة
8. أنواع المصنفات فى الحديث النبوى للشيخ شعيب الله خان

ပညာရှင်တွေ အဆိုကွဲပြားတဲ့ နေရာတွေမှာ အထောက်အထားအရ သာပိုခိုင်လုံပြီး ကျောင်းသားတွေ နားလည်လွယ်တဲ့ အဆိုကို ရွေးချယ်ထားပါတယ်။ တချို့ ပညာရပ်ဆိုင်ရာ ဝေါဟာရတွေကို ဘာသာမပြန်ဘဲ အရဗီလိုပဲ ရေးထားတာ ကျောင်းသားတွေကို အရဗီအသုံးနှုန်းတွေနဲ့ တဖြည်းဖြည်း သိကျွမ်းဝင်စေဖို့ အတွက်ပါ။ الله ﷻ စာရှုသူအပေါင်းကို ဒီစာအုပ်လေးကို အကြောင်းခံပြီး လမ်းမှန်တရား ပြသတော်မူပါစေ။ آمين


محمّد فرحان

خرّيج جامعة دار العلوم كراتشى

مدرس جامعة فرقانية دار العلوم تنكنجون، باكيا كارڈن، ينكون، ميانمار

09788393100

farhanrgn@gmail.com


1442/3/1هـ

19/10/2020ش

## علم أصول الحديث

علم أصول الحديث = حديث ရဲ့အခြေအနေတွေ လေ့လာတဲ့ ပညာရပ်ကို ခေါ်ပါတယ်။
**အကျိုးကျေးဇူး** = حديث ရဲ့အခြေအနေတွေ သိပြီးတဲ့အခါ ခိုင်လုံတဲ့ حديث တွေကို လက်ခံလိုက်နာပြီး မခိုင်လုံတဲ့ حديث တွေကနေ ရှောင်ကြဉ်ခြင်းဖြစ်တယ်။
**လေ့လာရမဲ့အရာ** = حديث ဖြစ်ပါတယ်။
الحديث = رسول الله ﷺ ၊ صحابة နဲ့ تابعين ရဲ့အဆိုအမိန့်တွေ၊ ပြုမူဆောင်ရွက်ချက်တွေနဲ့ تقرير တွေကို حديث လို့ ခေါ်ဆိုပါတယ်။ ( رسول الله ﷺ ရဲ့ تقرير ဆိုတာ رسول الله ﷺ ရဲ့အမိန့်ကို နာခံတဲ့လူတစ်ယောက်က رسول الله ﷺ ရှေ့မှာ စကားတစ်ခွန်းပြောတဲ့အခါ ဒါမှမဟုတ် လုပ်ရပ်တစ်ခုလုပ်တဲ့အခါ رسول الله ﷺ ကသိမြင်ရဲ့သားနဲ့ နှုတ်ဆိတ်နေလိုက်ပြီး အဲဒီလူရဲ့လုပ်ရပ်ကို ထောက်ခံတဲ့ပုံစံ ဖေါ်ပြလိုက်တာကို ခေါ်ပါတယ်။ صحابة နဲ့ تابعين ရဲ့ تقرير လည်း ဒီအတိုင်းပါပဲ။)
الحديث ကို الخَبَر နဲ့ الأَثَر လို့လည်း ခေါ်ပါတယ်။

**حديث ကျမ်းတွေမှာ ရေးသားထားတဲ့ حديث မှာ အပိုင်း ၂ ပိုင်း ပါရှိပါတယ်။**

1. المَتْن = حديث ရဲ့စာသားကို ခေါ်တယ်။
2. السَنَد = حديث စာသားကို ဆင့်ပြန်ထားတဲ့ ဆင့်ပြန်သူတွေရဲ့ အမည်အစဉ်ဆက်ကို ခေါ်တယ်။

**سند အမျိုးအစား ၂ မျိုးရှိပါတယ်။**

1. السند العالْى = တခြား سند နဲ့ယှဉ်ရင် ဆင့်ပြန်သူ နည်းတဲ့ سند ကိုခေါ်တယ်။
2. السند النازل = တခြား سند နဲ့ယှဉ်ရင် ဆင့်ပြန်သူ များတဲ့ سند ကိုခေါ်တယ်။

**ဆင့်ပြန်သူနဲ့ ပတ်သက်တဲ့ အသုံးအနှုန်း ၈ ခုရှိပါတယ်။**

1. الراوِىْ = ဆင့်ပြန်သူ
2. الثِقَة = ယုံကြည်စိတ်ချရသူ

3. الضعيف = ယုံကြည်စိတ်ချရတဲ့ အဆင့်ကို မရောက်တဲ့သူ
4. المُسْنِد = မိမိ سند နဲ့ حديث ဆင့်ပြန်သူ (ဆင့်ပြန်ချက်နဲ့ ပတ်သက်ပြီး ဂဃနဏ သိသည်ဖြစ်စေ မသိသည်ဖြစ်စေ)
5. المُحَدِّث = حديث နဲ့ ပတ်သက်တဲ့ ပညာရပ်ပေါင်းစုံကို တတ်ကျွမ်းသူ
6. الحافظ = محدث ထက်မြင့်ပြီး ပညာရှင်တွေထံမှာ صحيح ဖြစ်တဲ့ أحاديث နဲ့ صحيح ဖြစ်ခြင်းမှာ အကွဲအလွဲရှိတဲ့ أحاديث ကို အလွတ်ရတဲ့သူ
7. الحاكم = أحاديث အနည်းငယ်ကလွဲလို့ ရှိသမျှ أحاديث အားလုံးကို ရှုထောင့်ပေါင်းစုံကနေ ကျွမ်းကျင်သူ
8. أمير المؤمنين في الحديث = حديث ပညာရပ်မှာ ခေတ်ရဲ့ ခေါင်းဆောင်

متن الحديث ရဲ့ ဆက်နွယ်မှုကို အခြေခံပြီး حديث ကို ၄ မျိုးခွဲခြားထားပါတယ်။

1. الحديث القُدْسِيّ = ပြတ်သားတဲ့စာသားနဲ့ ﷲ ﷻ ဘက်ကို ဆက်သွယ်ထားတဲ့ حديث ကို ခေါ်တယ်။
2. الحديث المَرفُوع = رسول الله ﷺ ရဲ့ အဆိုအမိန့် ဒါမှမဟုတ် ပြုမူဆောင်ရွက်ချက် ဒါမှမဟုတ် تقرير ကို တင်ပြထားတဲ့ حديث ကို ခေါ်တယ်။
3. الحديث المَوقُوف = صحابي ရဲ့ အဆိုအမိန့် ဒါမှမဟုတ် ပြုမူဆောင်ရွက်ချက် ဒါမှမဟုတ် تقرير ကို တင်ပြထားတဲ့ حديث ကို ခေါ်တယ်။
4. الحديث المَقطُوع = تابعي ရဲ့ အဆိုအမိန့် ဒါမှမဟုတ် ပြုမူဆောင်ရွက်ချက် ဒါမှမဟုတ် تقرير ကို တင်ပြထားတဲ့ حديث ကို ခေါ်တယ်။

ဆင့်ပြန်သူတွေရဲ့ အရေအတွက်ကို အခြေခံပြီး حديث ကို ၂ မျိုးခွဲခြားထားပါတယ်။

1. الحديث المُتَواتِر = ခေတ်ကာလတိုင်းမှာ ဆင့်ပြန်သူတွေရဲ့ အရေအတွက် များပြားမှုကိုကြည့်ပြီး ဆင်ခြင်တုံတရား ရှိတဲ့သူတယောက်က ဒီဆင့်ပြန်တဲ့သူတွေ အားလုံးပေါင်းပြီး မဟုတ်မမှန်ပြောဆိုဖို့ သာမန်အခြေအနေမှာ လုံးဝ မဖြစ်နိုင်ဘူးလို့ ကောက်ချက်ချတဲ့ حديث ကိုခေါ်တယ်။
2. حديثُ الآحادِ = الحديث المتواتر အဆင့်ထိ မရောက်တဲ့ حديث ကိုခေါ်တယ်။

## မတူညီတဲ့ရှုထောင့်တွေကို အခြေခံပြီး الآحاد حديث အမျိုးအစား အမျိုးမျိုးခွဲခြားထားပါတယ်။

### ပထမ။ ။ ဆင့်ပြန်သူတွေရဲ့ အရေအတွက်ကို အခြေခံပြီး الآحاد حديث ကို ၃ မျိုး ခွဲထားပါတယ်။

1. الغَرِيب = ခေတ်တစ်ခေတ်ခေတ်မှာ ဆင့်ပြန်သူ တစ်ဦးသာ ကျန်တဲ့ حديث ကိုခေါ်တယ်။
2. العَزِيز = ခေတ်တစ်ခေတ်ခေတ်မှာ ဆင့်ပြန်သူ နှစ်ဦးသာ ကျန်တဲ့ حديث ကိုခေါ်တယ်။
3. المَشْهُور = အပေါ်ပိုင်း နှစ်မျိုးကလွဲလို့ ကျန်တဲ့ပိုင်းတွေကို ခေါ်တယ်။ (الحديث المتواتر အဆင့်ထိ မရောက်မခြင်း)

### ဒုတိယ။ ။ ခိုင်လုံမှန်ကန်မှုကို အခြေခံပြီး الآحاد حديث ကို ၅ မျိုးခွဲခြားထားပါတယ်။

1. الحديثُ الصحيحُ لِذاته = ဆင့်ပြန်တဲ့သူတွေအားလုံး عادل နဲ့ تامُّ الضَبْطِ ဖြစ်ပြီး مُتَّصِلُ السندِ ဖြစ်ရုံတင်မက مُعَلَّلٌ နဲ့ شَاذٌّ မဟုတ်တဲ့ حديث ကို ခေါ်တယ်။ (عادل ဆိုတာ အရွယ်ရောက်ပြီး၊ အသိဉာဏ်ရှိပြီး၊ ပြစ်မှုတွေနဲ့ လူသူအလယ်မှာ မလုပ်သင့်တဲ့ ကိစ္စတွေကနေ ရှောင်တဲ့ အီမာန်ရှင်ကို ခေါ်တယ်။ تام الضبط ဆိုတာ ကောင်းကောင်း ကျက်မှတ်ထားနိုင်သူ ကိုခေါ်တယ်။)
2. الحديثُ الحَسَنُ لذاته = صحيح لذاته မှာ ရှိရမယ့်အချက်တွေထဲက ضَبْطٌ တခုပဲလျော့နည်းပြီး ကျန်အချက်အားလုံး ပြည့်စုံတဲ့ حديث ကိုခေါ်တယ်။
3. الحديثُ الضعيفُ = حسن لذاته အဆင့်ထိ မရောက်တဲ့ حديث ကိုခေါ်တယ်။
4. الحديثُ الصحيح لِغَيرِه = سند တွေများတဲ့ حسن لذاته ကိုခေါ်တယ်။
5. الحديثُ الحسنُ لِغيره = سند တွေများတဲ့ ضعيف ကိုခေါ်တယ်။

### الحديث الضعيف အမျိုးအစား ၁၀ မျိုးရှိပါတယ်။

1. الحديث المَوْضُوع = الحديث النبوى မှာ လိမ်တဲ့သူ ဆင့်ပြန်တဲ့ حديث ကိုခေါ်တယ်။

2. الحديث المَتْرُوك = တနေ့တာ သာမန်အပြောအဆိုမှာ လိမ်တဲ့အကျင့်ရှိတဲ့သူ ဆင့်ပြန်ထားတဲ့ حديث ဒါမှမဟုတ် ဆင့်ပြန်တဲ့သူ တစ်ဦးတည်းဆီကပဲ قواعدُ معلومةٌ في الدين နဲ့ ဆန့်ကျင်ပြီး လာရှိထားတဲ့ حديث ကိုခေါ်တယ်။ (قواعد معلومة في الدين ဆိုတာ ပညာရှင်တွေက أُصولُ الشَّرْعِ ကနေ ထုတ်နုတ်ထားတဲ့ ဥပဒေတွေကို ခေါ်တာပါ။ ဥပမာ - الخَرَاجُ بالضَمان)

3. الحديث الشاذُّ = الراوى الثقة က الراوى الأَوْثَق ရဲ့ حديث နဲ့ ဆန့်ကျင်ဘက် ဘယ်လိုမှညှိမရတဲ့ပုံစံနဲ့ ဆင့်ပြန်ထားတဲ့ حديث ကိုခေါ်တယ်။ (အဲဒီ الراوى الأوثق ရဲ့ حديث ကို الحديث المَحْفُوظ လို့ခေါ်တယ်။)

4. الحديث المُنْكَر = الراوى الضعيف က الراوى الثقة ရဲ့ حديث နဲ့ ဆန့်ကျင်ဘက် ဘယ်လိုမှညှိမရတဲ့ပုံစံနဲ့ ဆင့်ပြန်ထားတဲ့ حديث ကိုခေါ်တယ်။ (အဲဒီ الراوى الثقة ရဲ့ حديث ကို الحديث المَعْرُوف လို့ခေါ်တယ်။)

المخالفة
الأوثق ⟷ الثقة
محفوظ — شاذ

المخالفة
الثقة ⟷ الضعيف
معروف — منكر

5. الحديث المُعَلَّل = حديث ရဲ့တိကျမှုကို ထိခိုက်စေပြီး ရှုပ်ထွေးပုံးကွယ်နေတဲ့ ချို့ယွင်းချက် ရှိတဲ့ حديث ကိုခေါ်တယ်။ အပေါ်ယံမှာတော့ ချို့ယွင်းချက် ကင်းတယ်လို့ ထင်ရတယ်။ ဒါပေမဲ့ ဒါကို حديث ပညာရပ်မှာ နှံ့စပ်ကျွမ်းကျင်တဲ့ ပညာရှင်တွေပဲ ဖေါ်ထုတ်နိုင်တယ်။

6. الحديث المُضْطَرِب = ပုံစံအမျိုးမျိုးနဲ့ ဆင့်ပြန်ခြင်းခံရပြီး سند ဒါမှမဟုတ် متن မှာ ညှိနှိုင်းလို့လဲမရ၊ အသာပေးလို့လဲ မရတဲ့ ရှုပ်ထွေးမှုမျိုးရှိတဲ့ حديث ကိုခေါ်တယ်။

7. الحديث المَقْلُوب = မေ့မှားပြီးတော့ متن ဒါမှမဟုတ် سند မှာစကားလုံးတွေ ရှေ့နောက်ဖြစ်သွားတဲ့ حديث ဒါမှမဟုတ် ဆင့်ပြန်သူ တစ်ယောက်အစား နောက်တစ်ယောက်ရဲ့ နာမည်လာရှိထားတဲ့ حديث ကိုခေါ်တယ်။

8. الحديث المُدْرَج = حديث ရဲ့ အစိတ်အပိုင်းအဖြစ် ထင်ယောင်ထင်မှားဖြစ်အောင် ဆင့်ပြန်သူက မိမိဘက်ကနေ متن ဒါမှမဟုတ် سند မှာ စကားတစ်ခုခု တိုးထားတဲ့ حديث ကိုခေါ်တယ်။

9. الحديث المُصَحَّف (المُحَرَّف) = စကားလုံးရေးတဲ့ပုံစံ မပြောင်းပေမဲ့လဲ نُقَطٌ နဲ့ حَرَكَاتٌ ရဲ့ အပြောင်းအလဲကြောင့် မှားယွင်းမှုဖြစ်ပေါ်တဲ့ حديث ကိုခေါ်တယ်။
10. الحديث المُبْهَم = أَخْبَرَنِى فلانٌ ဆိုပြီး ဆင့်ပြန်သူအမည် အတိအကျ မဖော်ပြထားတဲ့ حديث ကိုခေါ်တယ်။

တတိယ။ ။ سند မှာ အစဉ်အဆက် ပြတ်တောက်မှုရှိ မရှိကို အခြေခံပြီး الآحاد حديث ကို ၇ မျိုး ခွဲခြားထားပါတယ်။

1. الحديث المُسْنَد = رسول الله ﷺ ထိ سند မှာ ဆင့်ပြန်သူအစဉ်အဆက် ပြတ်တောက်မှု မရှိတဲ့ حديث ကိုခေါ်တယ်။
2. الحديث المُتَّصِل = سند မှာ ဆင့်ပြန်သူအစဉ်အဆက် ပြတ်တောက်မှု မရှိတဲ့ حديث ကို ခေါ်တယ်။
3. الحديث المُنْقَطِع = سند မှာ ဆင့်ပြန်သူအစဉ်အဆက် ပြတ်တောက်မှု ရှိတဲ့ حديث ကို ခေါ်တယ်။
4. الحديث المُعَلَّق = سند အစမှာ ဆင့်ပြန်သူတစ်ယောက် ဒါမှမဟုတ် တစ်ယောက်ထက်ပိုပြီး ဆက်တိုက် ပြုတ်နေတဲ့ حديث ကိုခေါ်တယ်။
5. الحديث المُعْضَل = سند မှာ ဆင့်ပြန်သူနှစ်ယောက် ဒါမှမဟုတ် ဒီထက်ပိုပြီး ဆက်တိုက် ပြုတ်နေတဲ့ حديث ကိုခေါ်တယ်။
6. الحديث المُرْسَل = سند အဆုံးမှာ ဆင့်ပြန်သူ ပြုတ်နေတဲ့ حديث ကိုခေါ်တယ်။ ဆိုလိုတာက تابعى က رسول الله ﷺ ဘက်ကို တိုက်ရိုက်ဆက်သွယ်ပြီး ကြားခံဆင့်ပြန်သူ ပြုတ်နေတဲ့ حديث ကိုခေါ်တယ်။
7. الحديث المُدَلَّس = سند မှာ ဆင့်ပြန်သူက မိမိ شيخ ဒါမှမဟုတ် شيخُ الشيخِ ရဲ့ နာမည်ကို ဖြုတ်ထား ပေမဲ့လဲ متصلُ السندِ အဖြစ် ထင်ယောင်ထင်မှားဖြစ်တဲ့ ပုံစံနဲ့ ဆင့်ပြန်ထားတဲ့ حديث ကိုခေါ်တယ်။

စတုတ္ထ။ ။ سند ရဲ့ထူးခြားမှုကို အခြေခံပြီး الآحاد حديث ကို ၃ မျိုး ခွဲခြားထားပါတယ်။

1. المُعَنْعَن = ဆင့်ပြန်သူက မိမိ شيخ ထံကနေ တိုက်ရိုက်ကြားတယ်လို့ ရှင်းရှင်းလင်းလင်း မဖော်ပြဘဲ سند မှာ عن فلانٍ عن فلانٍ လို့ သုံးထားတဲ့ حديث ကို ခေါ်တယ်။
2. المُؤَنَّن = ဆင့်ပြန်သူက မိမိ شيخ ထံကနေ တိုက်ရိုက်ကြားတယ်လို့ ရှင်းရှင်းလင်းလင်း မဖော်ပြဘဲ سند မှာ حَدَّثَنا فلانٌ أنّ فلاناً قال လို့ သုံးထားတဲ့ حديث ကို ခေါ်တယ်။
3. المُسَلْسَل = ဆင့်ပြန်သူတွေအားလုံး တူညီတဲ့အရည်အချင်း ဒါမှမဟုတ် အပြောအဆို ဒါမှမဟုတ် အခြေအနေတစ်ခုနဲ့ ဆင့်ပြန်ထားတဲ့ حديث ကိုခေါ်တယ်။

---

## حديث ဆင့်ပြန်တဲ့အခါ သုံးတဲ့စကားလုံးများ

حديث ပညာရှင်တွေ حديث ဆင့်ပြန်တဲ့အခါမှာ အောက်မှာဖေါ်ပြထားတဲ့ စကားလုံးတွေထဲက တစ်လုံးလုံးကို အများဆုံး သုံးလေ့ရှိပါတယ်။

| | | | |
|---|---|---|---|
| أَخْبَرَنا | أَخْبَرَنى | حَدَّثَنا | حَدَّثَنى |
| قال فلانٌ | قَرَأْتُ | أَنْبَأَنا | أَنْبَأَنى |
| كَتَبَ فلانٌ | رَوٰى لى فلانٌ | رَوٰى فلانٌ | قال لى فلانٌ |
| عن فلانٍ | ذَكَرَ لى فلانٌ | ذَكَرَ فلانٌ | كَتَبَ إِلَىّ فلانٌ |

## حدثنى နဲ့ أخبرنى ရဲ့ ကွာခြားမှု

ရှေးခေတ်ပညာရှင်များ ထံမှာ ဒီစာလုံးနှစ်လုံးရဲ့ သုံးပုံသုံးနည်း အတူတူပါပဲ။ ဒါပေမဲ့ နှောင်းခေတ်ပညာရှင်များ ထံမှာ သုံးပုံသုံးနည်း ကွာပါတယ်။ နှောင်းခေတ်ပညာရှင်များ ထံမှာ شيخ ကဖတ်ပြီး ကျောင်းသားတစ်ယောက်က နားထောင်ရင် حدثنى ၊ အများကနားထောင်ရင် حدثنا လို့ သုံးတယ်။ အကယ်၍ ကျောင်းသားတစ်ယောက်က ဖတ်ပြီး شيخ က နားထောင်ရင် أخبرنى ၊ ကျောင်းသားအများကဖတ်ရင် أخبرنا သုံးတယ်။ (ဆိုလိုတာက ဒီကျောင်းသားတွေက ရှေ့ဆက်ပြီး حديث ပို့ချရင် အဲဒီစာလုံးတွေ သုံးမှာဖြစ်တယ်။)






## حديث ကျမ်းစာအုပ်များ

## မတူညီတဲ့ရှုထောင့်တွေကို အခြေခံပြီး حديث ကျမ်းစာအုပ်တွေကို အမျိုးအစား အမျိုးမျိုး ခွဲခြားထားပါတယ်။

### ပထမ ။။ أحاديث ရဲ့ အခန်းကဏ္ဍ ဖွဲ့စည်းမှုနဲ့ အထားအသို ရှုထောင့်အရ حديث ကျမ်းအမျိုးအစား ၈ မျိုးရှိပါတယ်။

1. الجامِع = تفسير ، عقائد ، آداب ، أحكام ، مَناقِب ، سِيَر ، فِتَن ، أشراطُ الساعةِ အစရှိတဲ့ သာသနာရဲ့ ကဏ္ဍပေါင်းစုံနဲ့ သက်ဆိုင်တဲ့ أحاديث ကို သက်ဆိုင်ရာအခန်းမှာ အစီအစဉ်တကျ ရေးသားထားတဲ့ ကျမ်းကို ခေါ်တယ်။
ဥပမာ - صحيحُ البخاريِّ ၊ جامع التِرْمِذِيِّ ။
2. السُنَن = أبوابُ الكتبِ الفقهيّةِ အစီအစဉ်အတိုင်း أحاديثُ الأحكامِ المرفوعةُ ကို စုစည်းထားပြီး الأحاديثُ الموقوفةُ والمقطوعةُ ကို လိုအပ်တဲ့နေရာ တချို့မှာ အားဖြည့်အထောက်အထား သဘောမျိုးနဲ့ပဲ တင်ပြထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - سنَنُ أبي داود ၊ سنَنُ النَسائيِّ ၊ سنَنُ ابنِ ماجَهْ ။
3. المُصَنَّف = أبوابُ الكتبِ الفقهيّةِ ကို أحاديثُ الأحكامِ المرفوعةُ والموقوفةُ والمقطوعةُ အစီအစဉ်အတိုင်း စုစည်းထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - مصنفُ عبدِ الرزّاقِ ၊ مصنفُ ابنِ أبي شَيْبَةَ ။
4. المُوَطَّأ = أبوابُ الكتبِ الفقهيّةِ ကို أحاديثُ الأحكامِ المرفوعةُ والموقوفةُ والمقطوعةُ အစီအစဉ်အတိုင်း စုစည်းထားပြီး بَلاغاتٌ နဲ့ ပညာရှင်တွေရဲ့ ကောက်နုတ်ချက်တွေလဲ ပါဝင်တဲ့ ကျမ်းကိုခေါ်တယ်။ (بلاغ ဆိုတာ ဆင့်ပြန်သူက بَلَغَنِي عن النبي ﷺ كذا လို့ပြောပြီး ဆင့်ပြန်ထားတဲ့ ဆင့်ပြန်ချက်တွေကို ခေါ်တယ်။)
ဥပမာ - مُوَطَّأُ الإمامِ مالكٍ ၊ مُوَطَّأُ الإمامِ مُحَمَّد ။
5. المُسْنَد = صحابي တစ်ဦးခြင်းစီရဲ့ أحاديث ကို သက်သက်စီစုပြီး ရေးသားထားတဲ့ ကျမ်းကိုခေါ်တယ်။ အဲဒီမှာ صحابة ရဲ့ နာမည်တွေစီတဲ့အခါ ပုံစံအမျိုးမျိုးနဲ့ စီကြတယ်။ တချို့ပညာရှင်တွေက အက္ခရာစဉ်နဲ့စီတယ်၊ တချို့က صحابة ရဲ့ ထွဋ်မြတ်မှုအရ၊

တချို့က အမျိုးဂုဏ်အရ စီတယ်၊ တချို့က အီမာန်လက်ခံမှုမှာ ရှေးကျတာနဲ့ နှောင်းကျတာကို အခြေခံတယ်။ ဥပမာ - مسندُ الإمامِ أحمد ၊ مسندُ البَزّار ။

6. المُعْجَم = မိမိ شيخ တစ်ဦးချင်းစီရဲ့ أحاديث ကို သက်သက်စီစုပြီး ရေးသားထားတဲ့ ကျမ်းကိုခေါ်တယ်။ အဲဒီမှာ شيوخ ရဲ့ နာမည်တွေစီတဲ့အခါ အများအားဖြင့် အက္ခရာစဉ်နဲ့စီတယ်။ ဥပမာ - مَعاجِمُ الإمام الطَبَرانِىّ الثلاثةُ (الكبيرُ، الأوسطُ، الصغيرُ) ။

7. الجُزْء = ဆင့်ပြန်သူတစ်ယောက်ရဲ့ أحاديث အားလုံးကို စုစည်းထားတဲ့ကျမ်း ဒါမှမဟုတ် حديث တစ်ပုဒ်နဲ့ပတ်သက်တဲ့ أسانيد အားလုံးကို လေ့လာထားတဲ့ကျမ်း ဒါမှမဟုတ် ကိစ္စတစ်ခုတည်းနဲ့ ပတ်သက်တဲ့ أحاديث အားလုံးကို စုစည်းတင်ပြထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - جُزْءُ حديثِ مالك ၊ اختيارُ الأَوْلىٰ فى حديث اخْتصام المَلَأِ الأَعْلىٰ لابن رَجَب الحنبلىّ ၊ الرِحْلةُ فى طَلَب الحديث للخطيب البَغْدادىّ ။

8. الأَرْبَعِيْن = أحاديث အပုဒ် လေးဆယ် စုထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - الأربعين النَوَوِيّة للإمام النَوَوِىّ ။

## ဒုတိယ ။ ။ တခြားပညာရှင်ရဲ့ ကြိုးစားမှုပေါ်မှာ ထပ်ဆင့် ကြိုးစားတဲ့ ရှုထောင့်အရ حديث ကျမ်း အမျိုးအစား ၅ မျိုးရှိပါတယ်။

1. المُسْتَدْرَك = ပညာရှင်တစ်ပါး ပြုစုထားတဲ့ حديث ကျမ်းရဲ့ စည်းကမ်းချက်တွေနဲ့ ကိုက်ညီပေမဲ့လဲ အဲဒီကျမ်းမှာ မပါရှိတဲ့ احاديث ကို နောက်ပညာရှင်တစ်ပါးက ရှာဖွေစုစည်း တင်ပြထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - المستدرك على الصحيحين للحاكم النَيْسابُورىّ ။

2. المُسْتَخْرَج = ပညာရှင်တစ်ပါးက တခြားပညာရှင်တစ်ပါး ပြုစုထားတဲ့ကျမ်းရဲ့ أحاديث ကို မိမိ أسانيد နဲ့ ပြန်လည်စုစည်းထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - المستخرج على الصحيحين لأبى نُعيم الأَصْفَهانىّ ၊
المستخرج على صحيح مسلم للحافظ أبي عَوانة الأَسْفَرايِيْنِىّ ။

3. المَجْمَع = မတူညီတဲ့ကျမ်းတွေမှာ ရှိတဲ့ أحاديث ကို အစီအစဉ်အမျိုးမျိုးနဲ့ စုစည်းပြီး ရေးထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - الجامع الصغير للسُيُوْطِىّ ၊ كَنْزُ العُمّال لِعَلىّ المُتَّقىّ ။

4. الزَوَائِد = ကျမ်းစာအုပ်တစ်အုပ်ရဲ့ တခြားကျမ်းတွေမှာမပါတဲ့ أحاديث ကို သီးသန့်ဖယ်ထုတ်ပြီး စုထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - مَجْمَعُ الزَوائدِ للهَيْثَمِيّ ၊ مِصباحُ الزُّجاجةِ في زَوائدِ ابنِ ماجه للبُوْصِيْرِىّ ။
5. الأَطْراف = متون الأحاديثِ ရဲ့ အပိုင်းတစ်ပိုင်းနဲ့ အဲဒီ متون ရဲ့ أسانيد ကို သက်ဆိုင်ရာကျမ်းတွေကနေ စုစည်းတင်ပြထားတဲ့ ကျမ်းကိုခေါ်တယ်။
ဥပမာ - إِتْحافُ المَهَرَةِ بأَطراف العَشَرَةِ لابن حَجَر ၊ تُحْفَةُ الأَشْراف للمِزّىّ ။

**တတိယ ။ ။ ခိုင်လုံတဲ့ أحاديث ပါဝင်မှု ရှုထောင့်အရ حديث ကျမ်းတွေကို အုပ်စု ၅ စု ခွဲလို့ရပါတယ်။**

1. الأحاديثُ الصحيحةُ ပဲ စုထားတဲ့ကျမ်းတွေ ဖြစ်တယ်။
ဥပမာ - الموطأ للإمام مالك ၊ الصحيحُ للبخارىّ ၊ الصحيح لمسلم ၊ الصحيح لابن حِبّان ၊ الصحيح لابن خُزَيْمَة ၊ المُنْتَقَى لابن الجارُوْد ။
2. الأحاديثُ الصِحاحُ والحِسانُ والضِّعافُ သုံးမျိုးစလုံး စုထားတဲ့ ကျမ်းတွေဖြစ်တယ်။ အဲဒီမှာပါတဲ့ ضعاف ကလဲ حسان နီးနီးရှိတဲ့အတွက်ကြောင့် أحاديث အားလုံးကို အထောက်အထားအဖြစ် အသုံးပြုလို့ရတယ်။
ဥပမာ - المسند للإمام أحمد ၊ الجامع للترمذى ၊ السنن لأبى داود ၊ السنن للنسائى ။
3. أحاديث အမျိုးအစားမျိုးစုံ စုထားတဲ့ ကျမ်းတွေဖြစ်တယ်။
ဥပမာ - السنن لابن ماجه ၊ المصنف لعبد الرزاق ၊ المصنف لابن أبي شيبة ၊ السنن للدارَقُطْنِىّ ၊ المعاجم الثلاثة للطبرانى ၊ الحِلْيَة لأبى نُعيم ၊ شُعَبُ الإيمانِ للبَيْهَقِىّ ။
4. أحاديث အနည်းငယ်ကလွဲလို့ الأحاديث الضِعاف ပဲရှိတဲ့ ကျမ်းတွေဖြစ်တယ်။
ဥပမာ - نَوَادِرُ الأصول للحكيم الترمذى ၊ مُسنَد الفِرْدَوس للدَيْلَمِىّ ၊ الكامل لابن عَدِىّ ၊ تاريخُ مدينةِ السلام للخَطيب البغدادى ၊ تاريخ دِمَشْق لابن عَساكِر ။
5. الأحاديث الموضوعة ကို သိရှိဖို့အတွက် ပြုစုထားတဲ့ ကျမ်းတွေဖြစ်တယ်။
ဥပမာ - كتاب الموضوعات لابن الجَوْزِىّ ၊ اللآلِى المصنوعةُ فى الأحاديث الموضوعة للسُيُوْطِى ၊ الموضوعات الكبرى والصغرى للملا على القارى ၊
تَنْزِيه الشريعة المرفوعة عن الأخبار الشَنيعة الموضوعة لابن عراق الكنانى ။

## الصحاح الستة

الصِحاحُ الستةُ ဒါမှမဟုတ် الأصول الستة ဆိုတာ အောက်မှာ ဖော်ပြထားတဲ့ ကျမ်းကြီး ၆ ကျမ်းကို ခေါ်တာပါ။

| မူရင်းနာမည် အပြည့်အစုံ | အတိုကောက် နာမည် |
|---|---|
| الجامعُ المُسنَد الصحيحُ المختصَر مِن أمور رسول الله ﷺ وسننِه وأيّامِه | صحيحُ البخاريّ |
| المسنَد الصحيحُ المختصرُ من السُنَن بِنَقْل العَدْل عن العدل عن رسول الله ﷺ | صحيحُ مسلمٍ |
| المُجْتَبٰى (သို့) المُجْتَنٰى(သို့) السنن الصُغْرٰى | سنَنُ النسائيِّ |
| السنن | سننُ أبى داودَ |
| الجامع المختصر من السنن عن رسول الله ﷺ ومعرفةُ الصحيحِ والمعلولِ وما عليه العملُ | جامعُ الترمذيّ |
| السنن | سننُ ابنِ ماجَهْ |

အမှန်တော့ الصحيحان က صحيح البخارى နဲ့ صحيح مسلم နှစ်အုပ်တည်းပါ။ ကျန်တဲ့ကျမ်းတွေမှာ حديث အမျိုးအစား မျိုးစုံ ပါဝင်ပါတယ်။ ဒါပေမဲ့လည်း ကျမ်းကြီး ၆ ကျမ်းစလုံးကို الصحاح လို့ ခေါ်လိုက်တာဟာ صحيح البخارى ၊ صحيح مسلم နဲ့ အခြားကျမ်း ၄ ကျမ်းမှာ ပါဝင်တဲ့ الأحاديث الصحاح ကို ကျန်တဲ့ حديث အမျိုးအစားတွေပေါ်မှာ အသာပေးတဲ့အနေနဲ့ပါ။

## المسالك الفقهيّة لأصحاب الكتب الستة

الإمام البخارى = တချို့ထံမှာ مجتهد ၊ တချို့ထံမှာ شافعى ၊ တချို့ထံမှာ حنبلى ။
الإمام مسلم = တချို့ထံမှာ مجتهد ၊ တချို့ထံမှာ مالكى ၊ တချို့ထံမှာ شافعى ။
الإمام أبو داود والإمام النسائى = တချို့ထံမှာ شافعى ၊ တချို့ထံမှာ حنبلى ။
الإمام بن ماجه والإمام الترمذى = တချို့ထံမှာ شافعى ၊ တချို့ထံမှာ أهل الحديث ။

## الجرح والتعديل

الجَرْحُ = محدثين ဘက်ကနေ ဆင့်ပြန်သူရဲ့ အားနည်းမှု ဖော်ပြတာကို جرح လုပ်တယ်လို့ ခေါ်တယ်။
التَعْدِيل = محدثين ဘက်ကနေ ဆင့်ပြန်သူရဲ့ စံချိန်မှီမှု ဖော်ပြတာကို تعديل လုပ်တယ်လို့ ခေါ်တယ်။
الجرح والتعديل လုပ်တဲ့အခါ စကားလုံး အမျိုးမျိုး သုံးရပါတယ်။ တချို့စကားလုံးတွေက အရမ်းပြင်းတယ်၊ တချို့က ပေါ့တယ်။ အဲဒီစကားလုံးတွေကို အပြင်းဆုံးကနေ အပေါ့ဆုံးအထိ အစဉ်လိုက် အမျိုးအစား ၆ မျိုးစီ ခွဲလို့ရပါတယ်။

### بعضُ ألفاظِ التعديل وأحكامُها

| | | |
|---|---|---|
| အထောက်အထားအဖြစ် အသုံးပြုနိုင်ပါတယ်။ | فلانٌ إليه المُنْتَهى فى التَّثَبُّت، لا أَعرِف له نظيراً فى الدنيا، أوثقُ الخلقِ | 1 |
| | ثِقَةٌ ثقة، ثقة ثَبْتٌ، ثقةٌ مأمونٌ | 2 |
| | ثقة، حُجَّةٌ، كأنه مُصْحَفٌ | 3 |
| أحاديث رُواةٌ ثِقاتٌ ရဲ့ နဲ့ ယှဉ်ကြည့်ရမယ်၊ မဆန့်ကျင်ရင် အထောက်အထားအဖြစ် အသုံးပြုနိုင်တယ်။ | صَدُوق، مَحَلُّه الصدقُ، لا بأسَ به | 4 |
| | فلانٌ شيخٌ، رَوى عنه الناسُ، شيخٌ وَسَطٌ | 5 |
| တခြား حديث အတွက် အားဖြည့်တဲ့အနေနဲ့ပဲ အသုံးပြုနိုင်တယ်။ | فلانٌ صالحُ الحديثِ، يُعتبَر به، مُقارِب الحديثِ | 6 |

## بعضُ ألفاظ الجرح وأحكامُها

| | | |
|---|---|---|
| 1 | فلانٌ أكذبُ الناسِ، إليه المُنْتَهَى فى الكَذِب، هو مَعْدِنُ الكَذِبِ | အထောက်အထားအဖြစ် အသုံးပြုလို့ မရသလို အားဖြည့်ဖို့အတွက်လည်း အသုံးပြုလို့ မရပါဘူး။ |
| 2 | فلانٌ كذّابٌ، دَجّالٌ، وَضّاعٌ | |
| 3 | فلانٌ مُتَّهَمٌ بالكذب، يسرِق الحديثَ، ليس بثقةٍ | |
| 4 | فلانٌ لا يُكتَب حديثُه، لا تَحِلّ الروايةُ عنه، واهٍ بِمَرَّةٍ | |
| 5 | فلانٌ لا يُحْتَجّ به، ضَعيف، له مَناكِيْرُ | တခြား حديث အတွက် အားဖြည့်တဲ့အနေနဲ့ပဲ အသုံးပြုနိုင်တယ်။ |
| 6 | فلانٌ لَيِّنُ الحديثِ، فيه مَقالٌ، ليس بذاكَ | |

## أقسامُ الجرحِ والتعديلِ

حرج နဲ့ تعديل မှာ ပုံစံ ၂ မျိုးစီ ရှိပါတယ်။

1. الجرح المفسَّر = အကြောင်းပြချက် ဖော်ပြထားတဲ့ حرج ကို ခေါ်တယ်။
   ဥပမာ - فلانٌ سَيِّئُ الحِفْظِ ။
2. الجرح المُبْهَم = အကြောင်းပြချက် မဖော်ပြထားတဲ့ حرج ကို ခေါ်တယ်။
   ဥပမာ- فلانٌ ضَعيف ။

1. التعديل المفسَّر = အကြောင်းပြချက် ဖော်ပြထားတဲ့ تعديل ကို ခေါ်တယ်။
2. التعديل المُبْهَم = အကြောင်းပြချက် မဖော်ပြထားတဲ့ تعديل ကို ခေါ်တယ်။

ကျွန်တော်တို့ လက်ဝယ်မှာရှိတဲ့ الجرح والتعديل كتب မှာ ဒီပုံစံ ၄ မျိုးစလုံးနဲ့ ဆင့်ပြန်သူတွေရဲ့ تعديل و حرج တွေကို ရေးသားထားပါတယ်။ ခြုံငုံကြည့်ရင် الجرح والتعديل المبهم က ပိုများပါတယ်။ الجرح والتعديل المفسر ကို လက်ခံလို့ ရတာနဲ့ပတ်သက်ပြီး ပညာရှင်တွေအားလုံး အဆိုညီကြပါတယ်။ ဒါပေမဲ့ الجرح والتعديل المبهم ကို လက်ခံလို့ ရ,မရမှာ ပညာရှင်တွေ အဆိုကွဲပြားကြတယ်။ နှောင်းပိုင်း

ပညာရှင်တွေထံမှာ အကယ်၍ جارح နဲ့ معدل က أسباب الجرح والتعديل ကို ကောင်းကောင်းနားလည်ပြီး ဒီနယ်ပယ်မှာ ကျွမ်းကျင်တဲ့သူဖြစ်ရင် သူ့ရဲ့ الجرح والتعديل المبهم ကို လက်ခံလို့ရတယ်။

## أوصافُ الجارِح والمعدِّل

جارِح (جرح လုပ်သူ) နဲ့ مُعَدِّل (تعديل လုပ်သူ) မှာ တချို့အရည်အချင်းတွေ ရှိဖို့အရေးကြီးပြီး၊ တချို့အချက်တွေကနေ ကင်းဖို့လိုပါတယ်။

### ရှိရမဲ့ အရည်အချင်းများ

1. العِلم = ပညာရှိခြင်း
2. الصِدْق= သစ္စာရှိခြင်း
3. التَقْوٰى = ပြစ်မှုများမှ ရှောင်ကြဉ်ခြင်း
4. الوَرَع = ဘာသာတရား ကိုင်းရှိုင်းခြင်း
5. معرفةُ أسبابِ الجرحِ والتعديلِ = تعديل و جرح လုပ်ရမဲ့ အကြောင်းရင်းတွေကို သိခြင်း
6. معرفةُ اصطلاحِ أهلِ الجرحِ والتعديلِ = ဒီနယ်ပယ်ရဲ့ ပညာရပ်ဆိုင်ရာ ဝေါဟာရတွေကို သိခြင်း

### ရှောင်ရမဲ့ အချက်များ

1. التَّعَصُّب = အမှန်အမှား မကြည့်ပဲ ကိုယ့်အုပ်စုဘက်လိုက်ခြင်း
2. التَّعَنُّت = ကိုယ်နဲ့ အတွေးအခေါ် မတူတဲ့သူပေါ်မှာ အကြောင်းမရှိ အကြောင်းရှာပြီး ဝေဖန်ခြင်း
3. التَّشَدُّد = စည်းကမ်း အလွန်တင်းကျပ်ခြင်း
4. التَّساهُل = စည်းကမ်း အလွန်ဖြေလျော့ခြင်း

بعضُ أسماءِ المُتَشَدِّدِين = الإمام مالك بن أنس، النسائي، أبو حاتِم الرازِىّ
بعض أسماء المتعصّبين = الأمام الدارَقُطْنِىّ، الخطيبُ البَغْدادى

بعض أسماء المتعنّتين = ابن تَيْمِيّة، ابن الجَوْزىّ، الفِيْرُوزآبادى (صاحب القاموس)
بعض أسماء المتساهلين = الإمام الترمذى، الحاكم النَيْسابُورىّ
بعض أسماء المُعْتَدِلين = الإمام أحمد، البخارى، أبو زُرْعَة الرازِىّ

မှတ်ချက်

جارح နဲ့ معدل တစ်ယောက်ကို متشدد ဒါမှမဟုတ် معتدل လို့ စသဖြင့် သတ်မှတ်တာက အဲဒီ جارح နဲ့ معدل ရဲ့ تعديل و جرح အားလုံးကိုကြည့်ပြီး ခြုံငုံသုံးသပ်လိုက်တာပါ။ အဲဒီလို ခြုံငုံသုံးသပ်လိုက်လို့ အဲဒီ جارح နဲ့ معدل ရဲ့ تعديل و جرح တိုင်းက အဲဒီလိုပဲဖြစ်မယ်လို့ အပြီးသတ်မှတ်လို့ မရပါဘူး။ ဘာဖြစ်လို့လဲဆိုတော့ معتدلين ကလည်း တချို့လူတန်းစားတွေနဲ့ ပတ်သက်လာရင် متشددين ဖြစ်သွားတတ်တယ်၊ တချို့အုပ်စုနဲ့ ပတ်သက်လာရင် متعنتين လည်း ဖြစ်သွားတတ်တယ်။ ဥပမာ - الإمام أحمد က معتدلين ထဲမှာ ပါပေမဲ့လည်း قرآن ကို مخلوق လို့ ပြောတဲ့သူနဲ့ ပတ်သက်လာရင် متشدد ဖြစ်သွားတယ်။ كتب الجرح والتعديل ကို နံ့နံ့စပ်စပ် လေ့လာရင် ဒီအကြောင်းတွေကို နားလည်နိုင်ပါတယ်။

## التَّعارُض بين الجرح والتعديل

တချို့ဆင့်ပြန်သူတွေနဲ့ ပတ်သက်ပြီး جرح ရော تعديل ရော နှစ်မျိုးစလုံး လာရှိပါတယ်။ အဲဒီအခါ ပုံစံအမျိုးမျိုးနဲ့ ညှိကြည့်ရမယ်။ ဥပမာ - ဆင့်ပြန်သူက အရင်ကတော့ فاسق ဒါပေမဲ့ နောက်တော့ သော်ဗဟ် လုပ်လိုက်တယ်၊ လူငယ်အရွယ်မှာတော့ မှတ်ဉာဏ်ကောင်းခဲ့တယ် ဒါပေမဲ့ ကြီးလာတော့ အားနည်းလာတယ်၊ أحاديث ကိုတော့ သေချာမှတ်တယ် ဒါပေမဲ့ သီးသန့်ဆရာ တစ်ပါးနဲ့ ပတ်သက်လာရင်တော့ စိတ်မချရဘူး၊ စသဖြင့်ပေါ့။

အကယ်၍ လုံးဝညှိမရရင် ဆန့်ကျင်ဘက်ဖြစ်တဲ့ ပုံစံ ၄ မျိုး ဖြစ်နိုင်တယ်။

| | الجرح | التعديل |
|---|---|---|
| 1 | المبهم | المبهم (အသာရမယ်) |
| 2 | المبهم | المفسر (အသာရမယ်) |
| 3 | المفسر (အသာရမယ်) | المبهم |
| 4 | المفسر (အသာရမယ်) | المفسر |

ပုံစံ ၃ နဲ့ ၄ မှာ جارح က ရှောင်ရမဲ့ အချက်တွေကနေ ရှောင်ဖို့တော့လိုတယ်။

## မှတ်ချက်

1. ပညာရှင်တစ်ပါးက ဆင့်ပြန်သူတစ်ဦးနဲ့ ပတ်သက်ပြီး تعديل و جرح လုပ်တယ်ဆိုတာ မိမိရဲ့ လေ့လာတွေ့ရှိချက်နဲ့ ပညာအမြော်အမြင်ကို အခြေခံပြီး လုပ်တာပါ။ အဲဒါကြောင့် ပညာရှင်တွေ အချင်းချင်းမှာ ဆင့်ပြန်သူတစ်ဦးနဲ့ ပတ်သက်ပြီး အကွဲအလွဲတွေ ဖြစ်နိုင်ပါတယ်။ ပညာရှင်တစ်ပါးရဲ့ အမြော်အမြင်နဲ့ လေ့လာတွေ့ရှိချက်က နောက်ပညာရှင်တစ်ပါးအတွက် လမ်းစသစ်တစ်ခုတော့ ဖြစ်နိုင်ပေမဲ့လဲ လိုက်နာဖို့ အရေးမကြီးသလို تعديل و جرح နဲ့ ပတ်သက်လာရင်လဲ ပညာရှင်တစ်ပါးရဲ့ ဆုံးဖြတ်ချက်က နောက်ပညာရှင်တစ်ပါးအတွက် အထောက်အထား မဟုတ်ပါဘူး။
2. တချို့ كتب الجرح والتعديل မှာ الإمام أبو حنيفة နဲ့ ပတ်သက်ပြီး လာရှိထားတဲ့ جرح ကို လုံး၀လုံး၀ လက်ခံလို့ မရပါဘူး။ ဘာဖြစ်လို့လဲဆိုတော့ الإمام أبو حنيفة ရဲ့ تعديل ကတော့ ကမ္ဘာ အသိပါ၊ ဒါပေမဲ့ တဖက်မှာ လာရှိထားတဲ့ جرح တွေမှာ တချို့က جرح مبهم ဖြစ်တယ်၊ တချို့ က متعصبين ၊ متعنتين နဲ့ متشددين ဘက်က လုပ်ထားတဲ့ جرح တွေဖြစ်တယ်။ အထက်မှာ تعديل و جرح ရဲ့ စည်းကမ်းချက်မှာ တင်ပြခဲ့တဲ့အတိုင်း ဒီလို جرح မျိုးဟာ الإمام أبو حنيفة နဲ့ပတ်သက်ပြီး လာရှိထားတဲ့ ရှုထောင့်ပေါင်းစုံက ရှင်းလင်းပြတ်သားတဲ့ تعديل နဲ့ ယှဥ်လာရင် ဘာအဆင့်မှ မရှိပါဘူး။

ربنا تقبل منا إنك أنت السميع العليم وتب علينا إنك أنت التواب الرحيم، وصلى الله تعالى على خير خلقه وآله وأصحابه أجمعين.

---